# ကန့်သတ်

ကုမ္ပဏီအမည် - Anawa Devi Daiichi Joint Venture Co., Ltd.

လုပ်ငန်း - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁-၉-၂၀၁၅ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၈-၉-၂၀၁၄ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၈-၉-၂၀၁၅ | ၁-၁၀-၀၁၅ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၈-၉-၂၀၁၅ | ၂၄-၉-၂၀၁၅ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၈-၉-၂၀၁၅ | ၂၁-၉-၂၀၁၅ | |
| | (ဃ) သမဝါယမဝန်ကြီးဌာန | ၈-၉-၂၀၁၅ | ၂၁-၉-၂၀၁၅ | |
| | (င) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၈-၉-၂၀၁၅ | ၂၂-၉-၂၀၁၅ | |
| ၃ | PAT တင်ပြခြင်း (၃၂/၂၀၁၅) | ၈-၉-၂၀၁၅ | | |
| ၄ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၈-၉-၂၀၁၅ | | |
| ၅ | မြေအသုံးပြုခွင့်တင်ပြခြင်း | | | |
| | (က) ကော်မရှင် အစည်းအဝေး (၁၆/၂၀၁၅) သို့ တင်ပြခြင်း | ၁၁-၉-၂၀၁၅ | | |
| | (ခ) စီးပွားရေးရာကော်မတီ အစည်းအဝေး သို့ တင်ပြခြင်း | | | ဆောင်ရွက်ဆဲ |
| | (ဂ) ပြည်ထောင်စုအစိုးရအဖွဲ့ သို့ တင်ပြခြင်း | | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၁၉-၁၀-၂၀၁၅ | | |
| ၇ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၂၃-၁၀-၀၁၅ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၅၃ ရက် | | |

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | Anawa Devi Daiichi Joint Venture Co., Ltd. |
| ၂။ | အဖွဲ့အစည်းပုံသဏ္ဍာန် | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| ၃။ | လုပ်ငန်းအမျိုးအစား | Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသား လွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၄။ | တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁ |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | အမေရိကန်ဒေါ်လာ ၀.၆၀ သန်း |
| ၆။ | ရောင်းချမည့်စနစ် | ပြည်ပပို့ ၃၀% နှင့် ပြည်တွင်းရောင်း ၇၀% ရောင်းချမည် ဖြစ်ပါသည်။ |
| ၇။ | လုပ်ငန်းသက်တမ်း | ၃၀ နှစ် |
| ၈။ | အရင်းကြေကာလ | ၄ နှစ် ၁၀ လ |
| ၉။ | IRR | ၁၃% |

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံ၀န်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၅.၆၀၀ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၂၅.၀၀၀ |
| ၅ | ၀င်ငွေခွန် | ၁၂၉.၀၀၀ | ၃၉၀.၀၀၀ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၇၅၆.၀၀၀ |
| ၇ | လုပ်ခလစာအပေါ် ၀င်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း နှစ်ဆယ် ထက်ကျော် ပါကအခွန်ပေးရမည့် ၀န်ထမ်း(၅)ဦး |
| ၈ | CSR (၂%) | | ၁၀.၀၀၀ |
| ၉ | မြေငှားရမ်းခရငွေ | | ၂၀၀.၀၀၀ |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၁၁၃) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသ အလုပ်အကိုင်အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေပါသည်။ |
| | | ၁၃၆.၇၆၀ | ၁၃၈၂.၁၆၅ |
| | Cost & Benefit | ၁:၁၀ | |

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Anawa Devi Daiichi Joint Venture Co., Ltd. မှ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - Anawa Devi Daiichi Joint Venture Co., Ltd.<br>- ဒေါ်တိုးနန္ဒာတင် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>(၁) Anawa Devi Fishing and General Trading Co-operative Limited မှ ၂၀% (မြန်မာ)<br>(၂) Daiichi Koutsu Sangyo Company Limited မှ ၈၀ % (ဂျပန်) |
| | လုပ်ငန်းအမျိုးအစား | - Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ာကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁ |
| | မြေပိုင်ရှင် | - Anawa Devi Fishing and General Trading Co-operative Limited |
| | မြေအကျယ်အဝန်း | - စုစုပေါင်း ၀.၄၃၄ ဧက (၁,၇၅၇.၂၀ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - တစ်နှစ်လျှင် US$ ၄၀,၀၀၀ နှုန်း<br>(တစ်နှစ် တစ်စတုရန်း မီတာလျှင် US$ ၂၂.၇၆ နှုန်း) |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၃၀ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - US$ ၀.၆၀ သန်း |

| ထည့်ဝင်သည့်အမျိုးအစား | Local (ကျပ်/သန်း) | Foreign (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|
| ငွေသား | ၁၂၀.၀၀ | ၀.၂၈ | ၀.၄၀ |
| စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | | ၀.၂၀ | ၀.၂၀ |
| **စုစုပေါင်း** | **၁၂၀.၀၀** | **၀.၄၈** | **၀.၆၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား | - **၁၁၃ ဦး** |
| | ပြည်တွင်း | - ၁၁၃ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂၅၀,၀၀၀ကျပ်) |
| ၇။ | ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်ပတင်ပို့) | - ပြည်ပတင်ပို့၊ ပြည်တွင်းရောင်း<br>**(၁) Normal စနစ်** |

| **ပစ္စည်း အမျိုးအစား** | **အရေအတွက် (Ton)** | **ရောင်းချမည့်ဈေးနှုန်း (US$/Ton )** |
|---|---|---|
| Frozen Fish Fillet (Barramundi) | ၅၇၀ | ၆,၈၀၀ |

| | | |
|---|---|---|
| | | (၂) Contract Processing စနစ်<br>ပစ္စည်း အမျိုးအစား — အရေအတွက် (Ton) — CMP ဈေးနှုန်း ( US$/Ton )<br>Fillet (Barramundi) — ၂၀၀ — ၁,၀၀၀ |
| ၈။ | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ်<br>(၆)နှစ်မြောက်<br>(ပြည်တွင်းရောင်း) | **Normal စနစ်**<br>ပစ္စည်း အမျိုးအစား — အရေအတွက် (Ton) — ရောင်းချမည့်ဈေးနှုန်း (ကျပ်/Ton)<br>By Product (Barramundi) — ၁၀၈ — ၁၂၅,၀၀၀ |
| ၉။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - US$ ၄.၀၈၉ သန်း |
| | အသုံးစရိတ် | - US$ ၄.၀၇၂ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - US$ ၀.၀၁၇ သန်း |
| ၁၀။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - US$ ၀.၀၇၈ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၆၇၅ |
| | အရင်းကြေကာလ | - ၄ နှစ် ၁၀ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ်<br>ပြန်ပေါ်နှုန်း (IRR) | - ၁၃ % |
| | CSR | - အသားတင်အမြတ်၏ ၂% ကို လျာထားသုံးစွဲမည်ဖြစ်ကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၄၈၀,၀၀၀ Unit |
| ၁၂။ | မီးဘေးကာကွယ်ရေးစီမံချက် | - မီးသတ်ဦးစီးဌာန၏ လမ်းညွှန်မှုနှင့်အညီ မီးလောင်မှု မဖြစ်ပွားစေရန် ကြိုတင်ကာကွယ်ရေးအနေဖြင့် မီးသုံးစွဲမှု စစ်ဆေးခြင်း၊ သတိပေးနိုးဆော်ခြင်း၊ အသိပညာပေး ဟောပြောပွဲများပြုလုပ်ခြင်း၊ မီးကင်းချထားခြင်း၊ ဝန်ထမ်းများအား မီးဘေးတားဆီးရေးအဖွဲ့များ ဖွဲ့စည်း၍ တာဝန်ပေးခြင်း၊ လေ့ကျင့်ပေးခြင်း၊ ရေနှင့် မီးငြိမ်းသတ်ရေး ပစ္စည်းများလုံလောက်စွာထားရှိခြင်း၊ အရေးပေါ်အချက်ပေး စနစ်များတပ်ဆင်ခြင်း၊ မီးလောင်မှုဖြစ်ပွားပါက စနစ်တကျ မီးငြိမ်းသတ်ရေးစနစ်နှင့် ပြန်လည်ထူထောင်ရေး စနစ်များအတွက် စီစဉ်ထားကြောင်း တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၃။ | အခြားတင်ပြချက် | - Anawa Devi Daiichi Joint Venture Co., Ltd. ၏ MOA, AOA (မူကြမ်း) များ တင်ပြထားပါသည်။<br>- ဒါရိုက်တာ အဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် Anawa Devi Fishing and General Trading Co-operative Limited နှင့် မြေငှားသူ Daiichi Koutsu Sangyo Company Limited တို့ ချုပ်ဆိုသည့် မြေငှားစာချုပ်။<br>- မြေပိုင်ရှင် Anawa Devi Fishing and General Trading Co-operative Limited နှင့် မြေငှားသူ Anawa Devi Daiichi Joint Venture Co., Ltd. တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ်။<br>- Anawa Devi Daiichi Joint Venture Co., Ltd. နှင့် မလေးရှားနိုင်ငံရှိ Gloden Fresh Sdn. Bhd. တို့ ချုပ်ဆိုသည့် Contract Processing စာချုပ် (မူကြမ်း)၊<br>- မြေပိုင်ရှင် Anawa Devi Fishing and General Trading Co-operative Limited အမည်ဖြင့် မြေဂရန် စာချုပ်မိတ္တူ၊<br>- မြန်မာနိုင်ငံရှိ CB Bank တွင် Anawa Devi Fishing and General Trading Co-operative Limited သည် (၂၁-၇-၂၀၁၅)ရက်နေ့တွင် ကျပ် ၄၇၂၁၁၂၀၂.၉၄ ရှိကြောင်း၊ Myanma Investment and Commercial Bank တွင် (၂၉-၆-၂၀၁၅) ရက်နေ့တွင် US$ ၃၈,၂၉၄.၀၀ ရှိကြောင်း ငွေကြေးအထောက်အထား တင်ပြထားပါသည်။<br>- ဂျပန်နိုင်ငံရှိ The Nishi-Nippon City Bank, Ltd. ၌ Daiichi Koutsu Sangyo Company Limited သည် ၂၇-၁-၂၀၁၅ ရက်နေ့တွင် JPY ၆၈၂,၉၇၇,၄၆၄.၀၀ (US$ ၅,၇၃၂,၃၆၀.၆၀) ရှိကြောင်း တင်ပြထားပါသည်။<br>- Anawa Devi Fishing and General Trading Co-operative Limited ၏ သမဝါယမအသင်း မှတ်ပုံတင် လက်မှတ်မိတ္တူနှင့် ရေထွက်ပစ္စည်း လက်ခစားစနစ် (Contract Processing) ဖြင့် ဆောင်ရွက်ခြင်းနှင့် ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း (ငါးအအေးခန်းနှင့် ရေခဲစက်ရုံလုပ်ငန်း) လုပ်ကိုင်ရန် ရရှိထားသည့် ကော်မရှင် ခွင့်ပြုမိန့် (မိတ္တူ)၊ |

| | | |
|---|---|---|
| ၁၄။ | စိစစ်တင်ပြချက် | - Daiichi Koutsu Sangyo Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်မိတ္တူနှင့် AOA မိတ္တူ၊<br>- Anawa Devi Fishing and General Trading Co-operated Limited ၏ ၁-၄-၂၀၁၄ရက်နေ့မှ ၃၁-၃-၂၀၁၅ ရက်နေ့အထိ ငွေစာရင်းချုပ်မိတ္တူ၊<br>- Daiichi Koutsu Sangyo Company Limited ၏ ၂၀၁၀-၂၀၁၁ နှင့် ၂၀၁၁-၂၀၁၂ စာရင်းစစ်အစီရင်ခံစာ မိတ္တူ၊<br>- စက်ရုံ၏တည်နေရာပြမြေပုံ၊ Layout Plan နှင့် အဆောက်အဦ ဓာတ်ပုံ များကိုတင်ပြထားပါသည်။<br>- ဓာတုဗေဒပစ္စည်းများအား စနစ်တကျသုံးစွဲမည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများစနစ်တကျစွန့်ပစ်မည့် အစီအစဉ် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက် စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည်ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1 US$ =1000 Kyats ဖြင့် ဖော်ပြထားပါသည်။<br>- မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၄၄/၁၉၉၆ ဖြင့် ရေထွက်ပစ္စည်း လက်ခစားစနစ် (Contract Processing) ဖြင့် ဆောင်ရွက်ခြင်းနှင့် ထုတ်လုပ်မှုနှင့် ဝန်ဆောင်မှုလုပ်ငန်း (ငါးအအေးခန်းနှင့် ရေခဲစက်ရုံလုပ်ငန်း) ဆောင်ရွက်လျက်ရှိသော Anawa Devi Fishing and General Trading Co-operative Limited မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက်ခွင့်အား ၃-၄-၂၀၁၅ ရက်နေ့တွင် ကျင်းပသော ၆/၂၀၁၅ ကြိမ်မြောက် ကော်မရှင်အစည်းအဝေးမှ ခွင့်ပြုကြောင်း ကုမ္ပဏီသို့ အကြောင်းကြားသည့်စာအား တင်ပြထားပါသည်။ |

| | | |
|---|---|---|
| | | - အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉/၂၀၁၄ ၏ စီးပွားရေးလုပ်ငန်းအမျိုးအစားများ ပြင်ဆင် သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့်လုပ်ငန်း၊ ကန့်သတ်ချက် တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့် လုပ်ငန်းစာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။<br>- ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၂၀၁၅) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့လည်းကောင်း ပြည်ထောင်စုအစိုးရအဖွဲ့ အစည်းအဝေးသို့လည်းကောင်း ဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။<br>- ဝန်ထမ်းများ၏ အနိမ့်ဆုံးလုပ်ခလစာမှာ တစ်ရက်လျှင် ၃၃၃၃ ကျပ်နှုန်း ဖြစ်ပြီး ပြည်တွင်း၌ သတ်မှတ်ထားသော အနိမ့်ဆုံးလုပ်ခလစာနှုန်းထားထက် အနည်းငယ် လျော့နည်းကြောင်း တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ ရက-၂/န-၁၃၄/၂၀၁၅ ( ၈၀၂ )
ရက်စွဲ ၊ ၂၀၁၅ ခုနှစ် အောက်တိုဘာလ ၂၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Anawa Devi Daiichi Joint Venture Company Limited မှ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြု တင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံ Anawa Devi Fishing and General Trading Co-operated Limited မှ ၂၀% နှင့် ဂျပန်နိုင်ငံ Daiichi Koutsu Sangyo Company Limited မှ ၈၀% ပါဝင်၍ မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Company Limited တည်ထောင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်း ရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁ ရှိ စုစုပေါင်း မြေဧရိယာ ၀.၄၃၄ ဧက (၁,၇၅၇.၂၀ စတုရန်းမီတာ) ကို ငှားရမ်းကာ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေအရဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေပိုင်ရှင် Anawa Devi Fishing and General Trading Co-operative Limited နှင့် မြေငှားသူ AA Interiors Myanmar Ltd အကြားချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း) နှင့် Anawa Devi Fishing and General Trading Co-operative Limited နှင့် Daiichi Koutsu Sangyo Company Limited တို့ ချုပ်ဆိုမည့် ဖက်စပ်စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၀.၄၃၄ ဧက (၁,၇၅၇.၂၀ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၂၂.၇၆ နှုန်းဖြင့် တစ်နှစ်လျှင် US$ ၄၀,၀၀၀

ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၃၀ နှစ် ဖြစ်ပြီး ၁၀ နှစ် တစ်ကြိမ် သက်တမ်း တိုးမြှင့်ခွင့် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ Phase 1 အတွက် နှစ် ၃၀ ဖြစ်ပြီး Phase 2 အတွက် ၁၀ နှစ် ဖြစ်ပါသည်။ တည်ဆောက်ရေးကာလမှာ ၆ လ ခန့်ကြာမြင့်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှုမှာ အမေရိကန်ဒေါ်လာ ၀.၆၀သန်း ဖြစ်ပြီး အောက်ပါ အတိုင်း ထည့်ဝင်ထားပါသည်-

| | | Local (ကျပ်/သန်း) | Foreign (US$/သန်း) | Total (US$/သန်း) |
|---|---|---|---|---|
| (က) | ငွေသား | ၁၂၀.၀၀ | ၀.၂၈ | ၀.၄၀ |
| (ခ) | စက်နှင့် စက်ပစ္စည်း (ပြည်ပဝယ်) | | ၀.၂၀ | ၀.၂၀ |
| | **စုစုပေါင်း** | **၁၂၀.၀၀** | **၀.၄၈** | **၀.၆၀** |

* Exchange Rate အနေဖြင့် 1 US$ =1000 Kyats ဖြင့် ဖော်ပြထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၁၁၃ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၀၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၂၅၀,၀၀၀ ကျပ် ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ တင်ပို့ရောင်းချပြီး ပြည်တွင်းတွင်လည်းရောင်းချမည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **ပြည်ပတင်ပို့**

**(၁) Normal စနစ်**

| **ပစ္စည်း အမျိုးအစား** | **အရေအတွက် (Ton)** | **ရောင်းချမည့်ဈေးနှုန်း (US$/Ton )** |
|---|---|---|
| Frozen Fish Fillet (Barramundi) | ၅၇၀ | ၆,၈၀၀ |

**(၂) Contract Processing စနစ်**

| **ပစ္စည်း အမျိုးအစား** | **အရေအတွက် (Ton)** | **CMP ဈေးနှုန်း ( US$/Ton)** |
|---|---|---|
| Barramundi Fillet | ၂၀၀ | ၁,၀၀၀ |

(ခ) **ပြည်တွင်းရောင်း (Normal စနစ်)**

| **ပစ္စည်း အမျိုးအစား** | **အရေအတွက် (Ton)** | **ရောင်းချမည့်ဈေးနှုန်း (ကျပ်/Ton)** |
|---|---|---|
| By Product (Barramundi) | ၁၀၈ | ၁၂၅,၀၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၀၈၉ |
| (ခ) | အသုံးစရိတ် | ၄.၀၇၂ |
| (ဂ) | အသားတင်အမြတ် | ၀.၀၁၇ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဋ္ဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ အမေရိကန်ဒေါ်လာ ၀.၀၇၈ သန်းဖြစ်ပြီး ကုန်သွယ်လုပ်ငန်းခွန် မှာ အမေရိကန်ဒေါ်လာ ၆၇၅ ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၄ နှစ်နှင့် ၁၀လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၃% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့**မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်နေရာသည် နောင်ပြု လုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်းမရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူဖြစ်စေပါကြောင်း၊ ဖော်ပြပါမြေနေရာတွင် လုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် ဒေသခံများက လူမှုရေး၊ စီးပွားရေး ၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံ နိုင်ခြင်း ရှိပါကြောင်းနှင့် အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ခွင့်ပြု သင့်ပါကြောင်း သဘောထား ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) **မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန** မှ ငါးလုပ်ငန်း ဦးစီးဌာနမှ ချမှတ်ထားသောလုပ်ငန်းစီမံချက်များအတိုင်း လိုက်နာဆောင်ရွက်မည် ဆိုပါက အဆိုပြုလုပ်ငန်းအား ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ခ**

(ဂ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှ သစ်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် မြန်မာ့သစ်လုပ်ငန်းမှ ကျင်းပပြုလုပ်မည့် ပြည်တွင်း/ ပြည်ပ အိတ်ဖွင့်တင်ဒါများတွင် ဝင်ရောက်ယှဉ်ပြိုင်ဝယ်ယူနိုင်ကြောင်း၊ ရေရှည်ကုန်ကြမ်း ရရှိနိုင်ရေးအတွက် သစ်တောဦးစီးဌာနသို့ ပုဂ္ဂလိက သစ်တော စိုက်ခင်းများ စိုက်ပျိုး တည်ထောင်ခွင့်လျှောက်ထားဆောင်ရွက်နိုင်ကြောင်း၊လုပ်ငန်း ဆောင်ရွက်မှုကြောင့်

ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်မှုများရှောင်ရှားနိုင်ရန် စီမံကိန်းဆိုင်ရာ အချက်အလက်များအား ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် လုပ်ငန်း စနစ်အသုံးပြုရန်၊ အဆိုပြုလွှာ တွင်ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) အတွက် အမြတ်ငွေစုစုပေါင်း၏ (၂%) အား အသုံးပြုခြင်း တို့အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက် သွားရန်၊ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုနှင့် လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) အနည်းဆုံး ဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) ကို ရေးဆွဲ တင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထား ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (EMP) တို့ကို ဆောင်ရွက် သွားမည်ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-ဂ**

(ဃ) **စက်မှုဝန်ကြီးဌာနမှ** လျှပ်စစ်သွယ်တန်းအသုံးပြုမှုများကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးအတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာန၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိကစက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင်ဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက် ပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-ဃ**

(င) **သမဝါယမဝန်ကြီးဌာနမှ** အဆိုပြုလုပ်ငန်းအား မူအားဖြင့် သဘောတူကြောင်း၊ သို့သော် သမဝါယမလုပ်ငန်းများ မပျောက်ပျက်ဘဲ ပိုမိုတိုးတက်ရန် လိုအပ်ကြောင်း၊ ဖက်စပ်ဆောင်ရွက်ရာတွင် စက်ရုံ၌ အလုပ်လုပ်ကြသော အလုပ်သမားများအနက် ဆန္ဒရှိသူများကို အဏ္ဏဝါဒေဝီ ပင်လယ်ငါးဖမ်းကုန်ထုတ်နှင့် အထွေထွေလုပ်ငန်း သမဝါယမအသင်းလီမိတက်တွင် ပါဝင်ခွင့်ပြုစေပြီး ငါးကုန်ထုတ်လုပ်ငန်းအပြင် အသင်းသားများအတွက် အသေးစားအရင်းအနှီးချေးငွေလုပ်ငန်းစသည့် အခြား ဖြစ်နိုင်သော သမဝါယမလုပ်ငန်းများကိုပါ တိုးချဲ့ဆောင်ရွက်စေသင့်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ လိုက်နာဆောင်ရွက်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။)** **နောက်ဆက်တွဲ-င**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ CB Bank တွင် Anawa Devi Fishing and General Trading Co-operative Limited သည် (၂၁-၇-၂၀၁၅)ရက်နေ့တွင် ကျပ် ၄၇၂၁၁၂၀၂.၉၄ ရှိကြောင်း၊ Myanma Investment and Commercial Bank တွင် (၂၉-၆-၂၀၁၅) ရက်နေ့တွင် US$ ၃၈,၂၉၄.၀၀ ရှိကြောင်း၊ ဂျပန်နိုင်ငံရှိ The Nishi-Nippon City Bank, Ltd. ၌ Daiichi Koutsu Sangyo Company Limited သည် ၂၇-၁-၂၀၁၅ ရက်နေ့တွင် JPY ၆၈၂,၉၇၇,၄၆၄.၀၀ (US$ ၅,၇၃၂,၃၆၀.၆၀) ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ Anawa Devi Daiichi Joint Venture Company Limited မှ မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်၊ ဓာတုဗေဒပစ္စည်းများအားစနစ်တကျသုံးစွဲမည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်းများ စနစ်တကျစွန့်ပစ်မည့် အစီအစဉ် လုပ်ငန်း ခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်၊ ဝန်ထမ်းများ၏ ကျန်းမာရေးအတွက်စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ်ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ လုပ်ငန်းသဘောသဘာဝ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။

၁၃။ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုရန် တင်ပြထားပါသည်။

၁၄။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ ရက်စွဲဖြင့် ထုတ်ပြန်ထားသော အမိန့်ကြော်ငြာစာအမှတ် ၄၉ / ၂၀၁၄ ၏ စီးပွားရေး လုပ်ငန်း အမျိုးအစားများ ပြင်ဆင်သတ်မှတ်ခြင်းတွင် ခွင့်မပြုသည့်လုပ်ငန်း၊ ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ရမည့် လုပ်ငန်း၊ ကန့်သတ်ချက်တစ်ရပ်ရပ်ကို လိုက်နာဆောင်ရွက်ရမည့်လုပ်ငန်း စာရင်းတွင် မပါဝင်သဖြင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ခွင့်ပြုနိုင်သော လုပ်ငန်းအမျိုးအစား ဖြစ်ပါသည်။

၁၅။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် စက်တင်ဘာလ ၈ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၃၂/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

၁၆။ **စိစစ်တင်ပြချက်**

(က) မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၄၄/၁၉၉၆ ဖြင့် ရေထွက်ပစ္စည်း လက်ခစားစနစ် (Contract Processing) ဖြင့် ဆောင်ရွက်ခြင်းနှင့် ထုတ်လုပ်မှု နှင့် ဝန်ဆောင်မှုလုပ်ငန်း (ငါးအအေးခန်းနှင့် ရေခဲစက်ရုံ လုပ်ငန်း) ဆောင်ရွက်လျက်ရှိသော Anawa Devi Fishing and General Trading Co-operative Limited မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုသို့ ပြောင်းလဲဆောင်ရွက် ခွင့်အား ၃-၄-၂၀၁၅ ရက်နေ့တွင် ကျင်းပသော ၆/၂၀၁၅ ကြိမ်မြောက် ကော်မရှင်

အစည်းအဝေးမှခွင့်ပြုကြောင်း ကုမ္ပဏီသို့ အကြောင်းကြားသည့်စာအား တင်ပြထားပါသည်။

(ခ) ပုဂ္ဂလိကမြေအား နိုင်ငံခြားသားပိုင်ကုမ္ပဏီသို့ ငှားရမ်းဆောင်ရွက်ခွင့်ပြုရန်ကိစ္စအတွက် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၆/၂၀၁၅) ကြိမ်မြောက်အစည်းအဝေးသို့ တင်ပြထားပြီး၊ စီးပွားရေးရာကော်မတီ၏ အစည်းအဝေးသို့လည်းကောင်း၊ ပြည်ထောင်စုအစိုးရအဖွဲ့အစည်းအဝေးသို့လည်းကောင်း ဆက်လက်တင်ပြသွားမည်ဖြစ်ပါသည်။

(ဂ) ပုဂ္ဂလိကမြေတွင် ငှားရမ်းဆောင်ရွက်ခြင်းအတွက် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူ ခွင့်ပြုပြီးမှသာ ကော်မရှင် ခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

(ဃ) ဝန်ထမ်းများ၏ အနိမ့်ဆုံးလုပ်ခလစာမှာ တစ်ရက်လျှင် ၃၃၃၃ ကျပ်နှုန်း ဖြစ်ပြီး ပြည်တွင်း၌ သတ်မှတ်ထားသော အနိမ့်ဆုံးလုပ်ခလစာနှုန်းထားထက် အနည်းငယ်လျော့နည်းကြောင်း တွေ့ရှိရပါသည်။

၁၇။ **ဆုံးဖြတ်ရန်အချက်**

မြန်မာနိုင်ငံ Anawa Devi Fishing and General Trading Co-operated Limited မှ ၂၀% နှင့် ဂျပန်နိုင်ငံ Daiichi Koutsu Sangyo Company Limited မှ ၈၀% ပါဝင်၍ မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Company Limited တည်ထောင်ကာ ဖက်စပ် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ာကျင်းရပ်ကွက်၊ မြေတိုင်း ရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁ ရှိ စုစုပေါင်း မြေဧရိယာ ၀.၄၃၄ ဧက (၁,၇၅၇.၂၀ စတုရန်းမီတာ) ကို ငှားရမ်းကာ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြှင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူ။

ရုံးလက်ခံ/မျှောစာတွဲ

Anawa Devi Daiichi Joint Venture Company Limited ၏
ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Anawa Devi Daiichi Joint Venture Company Limited | Anawa Devi Fishing and General Trading Co-operated Limited Represented by it Director:, | |
| | | (a) Daw Toe Nandar Tin<br>12/ Ah Sa Na (N) 146111<br>Chairperson | No. 554, Ma Ma Oo Lane, Baho Street, West Gyogone, Insein Township, Yangon. |
| | | Daiichi Koutsu Sangyo Company Limited Represented by it Directors:, | |
| | | (b) Mr. Tsuyoshi Takashiba<br>Japanese<br>TH 458818<br>Managing Director | Room No. 111, Prime Hill Business Square, No. 60, Shwe Dagon Pagoda Road, Dagon Township, Yangon |
| | | (c) Mr. Hiroyuji Miyamoto<br>Japanese<br>TK 9192489<br>Director | Room No. 111, Prime Hill Business Square, No. 60, Shwe Dagon Pagoda Road, Dagon Township, Yangon |
| | | (d) Mr. Hiroyuji Miyamoto<br>Japanese<br>TK 9192489<br>Director | Room No. 111, Prime Hill Business Square, No. 60, Shwe Dagon Pagoda Road, Dagon Township, Yangon |
| | | (e) Mr. Katsuhisa Onizuka<br>Japanese<br>TK 3775029<br>Director | Room No. 111, Prime Hill Business Square, No. 60, Shwe Dagon Pagoda Road, Dagon Township, Yangon |
| | | (f) Mr. Shotaro Yanaguchi<br>Japanese<br>TK 4710512<br>Director | Room No. 111, Prime Hill Business Square, No. 60, Shwe Dagon Pagoda Road, Dagon Township, Yangon |

| | | | |
|---|---|---|---|
| ၁။ | ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် | - | ၀၁-၅၃၅၇၈၇၊ |
| ၂။ | ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ | - | အမှတ် ၁၂၊ နတ်စင်လမ်း၊ ကြည့်မြင်တိုင်မြို့နယ်၊ ရန်ကုန် |
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - | ဒေါ်တိုးနန္ဒာတင်၊ ဥက္ကဋ္ဌ |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - | Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြှင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - | - |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - | - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - | - |



MTC, 1/10

နောက်ဆက်တွဲ-က

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ ( ၄၂ ) / စိုက်မွေး
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာ လ ၃၀ရက်

သို့

√မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈. ၉. ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န-၁၃၄ / ၂၀၁၅ (၆၉၂)

၁။ ဂျပန်နိုင်ငံ၊ Daiichi Koutsu Sangyo Company Limited မှ (၈၀%)၊ မြန်မာနိုင်ငံ Anawa Devi Fishing and General Trading Co-operative Limited မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁ ရှိ မြေ ၀. ၄၃၄ ဧက (၁, ၇၅၇. ၂၀ စတုရန်းမီတာ)အား ငှားရမ်း၍ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် လျှောက်ထားလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာခြင်းနှင့် စပ်လျဉ်း၍ ကွင်းဆင်းစိစစ်မှုအရ အောက်ပါအတိုင်း သဘောထားမှတ်ချက် တင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်နိုင်ခြင်းမရှိပါ။

(ခ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ပါက ပြည်တွင်းလုပ်သားအင်အား (၁၂၀)ဦးဖြင့် လုပ်ငန်းဆောင်ရွက်လျက်ရှိပြီး နှစ်စဉ်ပျှမ်းမျှ လုပ်သားအင်အား(၁၀)နေရာမှ (၁၅)နေရာအထိ တိုးမြှင့်ဆောင်ရွက်သွားမည်ဖြစ်သောကြောင့် မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်စေပါသည်။

(ဂ) အဆိုပြုလုပ်ငန်းလုပ်ကိုင်ရန် ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၆E၊ မြေကွက်အမှတ်-၁၃၆A/၁၊ မြေ ၀. ၄၃၄ ဧက (၁, ၇၅၇. ၂၀ စတုရန်းမီတာ)ရှိ မြေ၊ အဆောက်အဦးနှင့် လုပ်ငန်းသုံးစက်ပစ္စည်းများအား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ(၄၀၀၀၀ $)နှုန်း၊ တစ်စတုရန်းမီတာလျှင် တစ်နှစ်အတွက် ၂၂. ၇၆ USD နှုန်းဖြင့် ပထမ(၃၀)နှစ်၊ ဒုတိယနှင့်တတိယ(၁၀)နှစ်စီ ငှားရမ်းလုပ်ကိုင်ခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်းရှိပါသည်။

1)/2015/Cabinet/45..(2)

(ဃ) လုပ်ငန်းဆောင်ရွက်နိုင်သည့် မြေနေရာဖြစ်ပြီး အဆိုပြုလုပ်ငန်းလုပ်ကိုင်ရာတွင် သဘာဝပတ်ဝန်းကျင်အား ထိခိုက်မှုမရှိစေရန် စီမံဆောင်ရွက်မည်ဟု တင်ပြထားပါသည်။

၂။ အထက်ဖော်ပြပါအချက်များကြောင့် (၂၄. ၉. ၂၀၁၅)ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၄၅/၂၀၁၅)၊ ဆုံးဖြတ်ချက်အပိုဒ် (၁၇)အရ Anawa Devi Daiichi Joint Venture Co., Ltd. ၏ ရင်းနှီးမြှုပ်နှံမှုလုပ်ငန်းသစ်ဆောင်ရွက်မှုအား ခွင့်ပြုသင့်ပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

( မြင့်ဆွေ )
ဝန်ကြီးချုပ်

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးစိုက်ပျိုးရေးနှင့်မွေးမြူရေးဝန်ကြီး
ရန်ကုန်အရှေ့ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ဒေါပုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Anawa Devi Daiichi Joint Venture Co., Ltd.
လက်ခံစာတွဲ
မျှောစာတွဲ

9/2015/Cabinet/45,(3)

နောက်ဆက်တွဲ- ခ

MJC, 34/2219



NPT-4403
22-9-15

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊ ၃/ ၃၀၀၀/ မွေးရေကျေး( ၂၀၀၈ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၂၁ ရက်

အကြောင်းအရာ ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၈-၉-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရက-၂/ န-၁၃၄/ ၂၀၁၅ (၆၉၅)
(၂) ငါးလုပ်ငန်းဦးစီးဌာန၏ (၁၆-၉-၂၀၁၅) ရက်စွဲပါစာအမှတ်၊ ငလ/နပတ-၅/ ၂၀၁၅ (၅၈၇၆)

၁။ ဂျပန်နိုင်ငံ၊ Daiichi Koutsu Sangyo Company Limited မှ (၈၀%)၊ မြန်မာနိုင်ငံ Anawa Devi Fishing and Genaral Trading Co-operative Limited မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Co.,Ltd တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်-၆ E၊ မြေကွက်အမှတ်-၁၃၆ A/ ၁ ရှိ မြေ ၀.၄၃၄ ဧက (၁,၇၅၇.၂၀ စတုရန်းမီတာ) ငှားရမ်း၍ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့်ရောင်းချခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြမှုအပေါ် မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းချက်(၁)ပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Anawa Devi Daiichi Joint Venture Co., Ltd ၏အဆိုပြုချက်ပါ လုပ်ငန်းနှင့် စပ်လျဉ်း၍ စိစစ်ချက်အား အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) **ကုန်ကြမ်းလိုအပ်ချက်နှင့် ကုန်ချောထုတ်လုပ်မှုအချိုးအား ညီညွတ်မှုရှိ/ မရှိ**

(၁) **Normal စနစ်**။ Normal စနစ်အတွက် ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင် ပျမ်းမျှငါးကုန်ကြမ်း(၆၅၀)တန်မှ ကုန်ချော (၅၀၀)တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပြီး၊ တစ်ရက်လျှင် ငါးကုန်ချော (၂) တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(၂) **Contract Processing စနစ်။** Contract Processing စနစ်အတွက် ကုန်ကြမ်းရရှိနိုင်မည့်အခြေအနေမှာ တစ်နှစ်လျှင်ပျမ်းမျှကုန်ကြမ်း(၂၂၀)တန်မှ ကုန်ချော (၁၆၀)တန်ခန့် ထွက်ရှိနိုင်မည်ဖြစ်ပါသည်။

(ခ) **ဈေးနှုန်းဆိုင်ရာတွက်ခြေကိုက်မှုရှိ/ မရှိ**

(၁) **Normal စနစ်။** Normal စနစ်အတွက် ငါးပို့ကုန်တန်ဖိုးမှာ တစ်တန်လျှင် အမေရိကန်ဒေါ်လာ(၆၈၀၀)ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ငါးကုန်ချောတန် (၅၀၀)အတွက် အမေရိကန်ဒေါ်လာ (၃,၄၀၀,၀၀၀)ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ဈေးနှုန်းဆိုင်ရာ တွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(၂) **Contract Processing စနစ်။** Contract Processing စနစ်တွင် လုပ်အားခမှာ တစ်တန်လျှင်အမေရိကန်ဒေါ်လာ(၁၀၀၀) ခန့်ရရှိနိုင်ပါသဖြင့် တစ်နှစ်လျှင် ထုတ်လုပ်နိုင်မည့် ကုန်ချောတန် (၂၀၀) အတွက် အမေရိကန် ဒေါ်လာ (၂၀၀,၀၀၀) ခန့် ရရှိနိုင်ကြောင်း စိစစ်တွေ့ရှိရပါသဖြင့် Anawa Devi Daiichi Joint Venture Co., Ltd ၏ ဖော်ပြထားသော အချက်အလက်များအရ ဈေးနှုန်းဆိုင်ရာ တွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) **နှစ်စဉ်ထုတ်လုပ်မှုနှင့် စက်အင်အား/လူအင်အား အချိုးအစားညီမျှမှုရှိ/ မရှိ**

စက်ရုံတွင် တပ်ဆင်ထားသည့် ကုန်ချောထုတ်လုပ်ရန်စက်များ၏ Capacity မှာ Air Blast Freezer (3 MT / bath x 1 No), Coldstore (100 MT x 2 Nos) နှင့် Flake Ice Machine (10 MT/ day) တပ်ဆင်ထားပြီး၊ စက်၏ Capacity အရ အနည်းဆုံး တစ်နေ့ ငါး(၂) တန်နှင့် Value - Added Product (၁) တန် ထုတ်လုပ်နိုင်ကြောင်းသိရှိရပါသည်။ အဆိုပါစက်များ ကိုင်တွယ်မောင်းနှင်ရန်အတွက် အင်ဂျင်နီယာ (၃)ဦး အပါအဝင် ကုန်ကြမ်း၊ ကုန်ချောများ ပြုပြင်ဆောင်ရွက်နိုင်ရန်အတွက် ဝန်ထမ်းစုစုပေါင်း (၁၂၀) ဦးဖြင့် ဆောင်ရွက်လျက်ရှိကြောင်း စိစစ်တွေ့ရှိရပါသဖြင့် ကုန်ချောထုတ်လုပ်မှုနှင့် စက်အင်အား၊ လူအင်အား အချိုးအစား ညီညွတ်မှုရှိကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) **အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိ/ မရှိ**

အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ စီးပွားရေးတွက်ခြေကိုက်မှုရှိကြောင်း စိစစ်တွေ့ရှိချက်များအရ သိရှိရပါသည်။ ထို့အပြင် အဆိုပြုလွှာတွင် ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန်

ရေဆိုးများကိုသန့်စင်သောစနစ်၊ အနံ့ဆိုးများကို သန့်ရှင်းသောစနစ်၊ မီးဘေး ကြိုတင်ကာကွယ်မှု အစီအစဉ်များ တွေ့ရှိရပါသည်။

၃။ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန၊ ဖွံ့ဖြိုးရေးနှင့် သုတေသနဌာနခွဲ၊ ငါးလုပ်ငန်းစစ်ဆေးရေးနှင့် အရည်အသွေးထိန်းသိမ်းရေးဌာနစု အနေဖြင့် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများ၏ အရည်အသွေးနှင့် စားသုံးသူများ ဘေးအန္တရာယ်ကင်းရှင်းစေရေး အဓိကထား၍ စစ်ဆေးဆောင်ရွက်ပေးခြင်းဖြစ်ပါသည်။

၄။ Anawa Devi Daiichi Joint Venture Co.,Ltd သည် Normal စနစ်နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုရန် ကုမ္ပဏီ၏ တင်ပြချက်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားခွင့်ပြုပါရန်ကို (၂၁-၉-၂၀၁၅) ရက်နေ့တွင် ကျင်းပပြုလုပ်သည့် မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ အလုပ်အမှုဆောင် ကော်မတီအစည်းအဝေးအမှတ်စဉ် (၅၆/၂၀၁၅) မှ သဘောတူခွင့်ပြုခဲ့ပါသည်။

၅။ သို့ဖြစ်ပါ၍ Anawa Devi Daiichi Joint Venture Co.,Ltd သည် Normal စနစ်နှင့် Contract Processing စနစ်(၂)မျိုးဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် ကုမ္ပဏီ၏တင်ပြချက်အပေါ် ပြည်ပပို့ကုန်ရေထွက်ပစ္စည်းများနှင့် လက်ခစားအပ်ကုန်စနစ်ဖြင့် ထုတ်လုပ်သည့် ရေထွက်ပစ္စည်းများအား ပြုပြင်ထုတ်လုပ်ပြီး တင်ပို့ရာတွင် ငါးလုပ်ငန်းဦးစီးဌာနမှ ချမှတ်ထားသော လုပ်ငန်းအစီအမံများအတိုင်း လိုက်နာဆောင်ရွက်မည်ဆိုပါက မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်။

၂၁၊၉၊၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ အမြဲတမ်းအတွင်းဝန်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ-

(၁) ညွှန်ကြားရေးမှူးချုပ်၊ ငါးလုပ်ငန်းဦးစီးဌာန

(၂) Anawa Devi Daiichi Joint Venture Co., Ltd

(၃) ရုံးလက်ခံ

(၄) မျှော



**နောက်ဆက်တွဲ- ဂ**

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
# ပြည်ထောင်စုဝန်ကြီးရုံး

စာအမှတ် ၃(၂)/၁၆(ဃ)(၆)/( ၂၅၄၆ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ် ၊ စက်တင်ဘာလ [illegible] ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈- ၉ - ၂၀၁၅ ရက်စွဲပါစာအမှတ် ၊ ရက - ၂ / န - ၁၃၄ / ၂၀၁၅ ( ၆၉၃ )

၁။ ဂျပန်နိုင်ငံ၊ Daiichi Koutsu Sangyo Company Limited မှ ( ၈၀ % ) ၊ မြန်မာနိုင်ငံ Anawa Devi Fishing and General Trading Co-operative Limited မှ ( ၂၀ % ) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Co., Ltd. တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး ၊ ဒေါပုံမြို့နယ် ၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် - ၆ E၊ မြေကွက် အမှတ် - ၁၃၆ A / ၁ ရှိမြေ ( ၀.၄၃၄ ) ဧက ( ၁,၇၅၇.၂၀ စတုရန်းမီတာ ) ငှားရမ်း၍ Normal စနစ် နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာ နှင့် တန်ဖိုးမြင့် ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်လည်တင်ပြရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပြု လုပ်ငန်းနှင့် ပတ်သက်၍ စိစစ်ရာတွင် ကုန်ကြမ်းပစ္စည်းဖြစ်သည့် ငါးများအား ကြေးခွံဖယ်ရှားခြင်း ၊ အတွင်း အညစ်အကြေးများ သန့်စင်ခြင်း နှင့် အရိုးများ ဖယ်ထုတ်ခြင်း တို့အား ဆောင်ရွက်ရာတွင် ထွက်ရှိလာမည့် စွန့်ပစ်အညစ်အကြေးများအား စနစ်တကျ စွန့်ပစ်ခြင်းမရှိပါက အနံ့ဆိုးများထွက်ရှိပြီး မြေထု ၊ လေထု နှင့် ရေထုညစ်ညမ်းမှုများ ဖြစ်ပေါ်စေနိုင်ခြင်း နှင့် ပတ်ဝန်းကျင်ရှိပြည်သူများအား ကျန်းမာရေးထိခိုက်နိုင်ခြင်း ၊ လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် စက်ပစ္စည်းများ၏ ဆူညံသံများကြောင့် ပတ်ဝန်းကျင် ထိခိုက်စေခြင်း စသည်တို့ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Anawa Devi Daiichi Venture Co., Ltd. မှ ငါးအသားလွှာနှင့် တန်ဖိုးမြင့် ငါးထွက် အစားအစာများ ထုတ်လုပ်ခြင်း နှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြု လုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများလျော့နည်းစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊

ထုတ်လုပ်ခြင်း အဆင့်ဆင့်တို့အတွက် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် လုပ်ငန်းစနစ်များ ၊ စက်ပစ္စည်းများကို အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေး ဆိုင်ရာတာဝန်ခံမှု ( CSR ) အား အမြတ်ငွေ၏ ၂ % ထည့်ဝင်ရန်အပါအဝင် ကတိကဝတ်များ၊ လုပ်ငန်းစီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) ပတ်ဝန်းကျင် နှင့် လူမှုရေးဆိုင်ရာ ထိခိုက်မှုမဖြစ်ပေါ်စေရေး သို့မဟုတ် ထိခိုက်မှုအနည်းဆုံး ဖြစ်စေရေးတို့အတွက် လုပ်ငန်းဆောင်ရွက်မည့် အစီအမံများ ၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှုအစီအမံများ ၊ လုပ်ငန်းခွင်ဘေးအန္တရာယ်ကင်းရှင်းရေးအစီအမံများ ၊ စောင့်ကြည့်လေ့လာမည့်အစီအမံများ ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး လုပ်ငန်းများ ဆောင်ရွက်ရန်အတွက် သုံးစွဲမည့် ရန်ပုံငွေများ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် ( Environmental Management Plan - EMP)ရေးဆွဲတင်ပြရန် နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ဂ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း ၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာအကောင် အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့်သဘောထားများ ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( ခင်မောင်ရီ ၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



ICC, 35 / 2219

DPT-4351 / 21-9-15

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**

**စက်မှုဝန်ကြီးဌာန**

စာအမှတ်၊ ၂၁ - စမ (၂) ၂၀၁၅ - ၂၀၁၆ (၂၀၆၄)

ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈.၉.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၃၄ / ၂၀၁၅ (၆၉၄)

၁။ Anawa Devi Daiichi Joint Venture Co.,Ltd. မှ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ်(၆-E)၊ မြေကွက်အမှတ်(၁၃၆ A/၁)တွင် Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြှင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြှင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ Anawa Devi Daiichi Joint Venture Co.,Ltd. မှ Normal စနစ်နှင့် Contract Processing စနစ်တို့ဖြင့် ငါးအသားလွှာနှင့် တန်ဖိုးမြင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေ လုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(သွင်မြင့်မောင်၊ အမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

နောက်ဆက်တွဲ-င



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**သမဝါယမဝန်ကြီးဌာန**
ဝန်ကြီးရုံး

NPT-4337
18.9.15

စာအမှတ်၊ ၁/၂/၀၁ ( ၄၉၄ ) သမဝ- ၂၀၁၅
ရက်စွဲ၊ ၂၀၁၅ ခုနှစ်၊ စက်တင်ဘာလ ၁၇ ရက်

သို့

ဂျ၊ ၃၂ / ၂၁/၉

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၈-၉-၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂/ န - ၁၃၄/ ၂၀၁၅ (၆၉၆)

၁။ ဂျပန်နိုင်ငံ၊ Daiichi Koutsu Sangyo Company Limited မှ (၈၀%)၊ မြန်မာနိုင်ငံ Anawa Devi Fishing and General Trading Co – operative Limited မှ (၂၀%) အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Anawa Devi Daiichi Joint Venture Co., Ltd တည်ထောင်၍ ရန်ကုန်တိုင်းဒေသကြီး၊ ဒေါပုံမြို့နယ်၊ သဘော်ကျင်းရပ်ကွက်၊ မြေတိုင်းရပ်ကွက်အမှတ် - ၆ E၊ မြေကွက်အမှတ် - ၁၃၆ A/ ၁ ရှိမြေ ၀.၄၃၄ ဧက ပုံးရမ်း၍ ငါးသားလွှာနှင့် တန်ဖိုးမြင့်ငါးထွက်အစားအစာများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်း လုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုနိုင်ရေး သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်။

၂။ အဆိုပြု တင်ပြလာသည့်ကိစ္စနှင့်ပတ်သက်၍ ၁၆-၉-၂၀၁၅ ရက်တွင် ပြုလုပ်သော သမဝါယမဝန်ကြီးဌာန စီမံခန့်ခွဲရေးကော်မတီ အစည်းအဝေးတွင် ဆွေးနွေးဆုံးဖြတ်ချက်များအရ အဏ္ဏဝါ ဒေဝီပင်လယ်ငါးဖမ်းကုန်ထုတ်နှင့် အထွေထွေလုပ်ငန်းသမဝါယမအသင်းလီမိတက်နှင့် Daiichi Koutsu Sangyo Company Ltd. တို့ ပြုလုပ်မည့် ဖက်စပ်လုပ်ငန်းအား မူ အားဖြင့် သဘောတူပါသည်။ သို့သော် သမဝါ ယမလုပ်ငန်းများ မပျောက်ပျက်ဘဲ၊ ပိုမိုတိုးတက်ရန် လိုအပ်ပါသည်။ သို့ပါ၍ ဖက်စပ်ဆောင်ရွက်ရာတွင် စက်ရုံ၌ အလုပ်လုပ်ကြသော အလုပ်သမားများအနက် ဆန္ဒရှိသူများကို အဏ္ဏဝါ ဒေဝီပင်လယ်ငါးဖမ်းကုန်ထုတ်နှင့် အထွေထွေလုပ်ငန်းသမဝါယမအသင်းလီမိတက်တွင် ပါဝင်ခွင့်ပြုစေပြီး ငါးကုန်ထုတ်လုပ်ငန်းအပြင် အသင်းသားများအတွက် အသေးစားအရင်းအနှီးချေးငွေ လုပ်ငန်းစသည့် အခြားဖြစ်နိုင်သော သမဝါယမလုပ်ငန်းများကိုပါ တိုးချဲ့ဆောင်ရွက်စေသင့်ကြောင်း သဘောထား ပြန်ကြားအပ်ပါသည်။

(signature)

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
( ကျော်ငွေ၊ အမြဲတမ်းအတွင်းဝန် )

မိတ္တူကို -
သမဝါယမဦးစီးဌာန
လက်ခံ/ မျှော